ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ -၁၁၉၃/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဥက္ကာ

(ခ) **အဘ အမည်** ဦးညွန့်ဆွေ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကမတ(နိုင်) ၀၄၈၁၁၇

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၆၁၊ မဟာဆွေ ၂ လမ်း၊ ၄၂ ရပ်ကွက်၊ ဒဂုံ(မြောက်ပိုင်း) မြို့နယ် ၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** OYC ASIA Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက် )

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၆၃/တိုးချဲ့၊ မြေကွက်အမှတ် - ၂၉၇၃ ရှိ မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၄၁.၁၇၉ သန်း (အမေရိကန်ဒေါ်လာ ၀.၀၄၉ သန်း အပါအဝင် ကျပ်သန်းပေါင်း တစ်ရာလေးဆယ့်တစ် နှင့် တစ်သိန်း ခုနှစ်သောင်းကိုးထောင်ခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

6.7.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၉၃ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် ဇူလိုင်လ ၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်)သည် မြေကွက်အမှတ်-၂၉၇၃၊မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် ဇွန်လ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်) ကို CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၉၃/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှရရှိသောအမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန် အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းယင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ် အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ)ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ် ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိ ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးအောင်မြင့် နှင့် အငှားချထားခြင်းခံရသူ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင် ပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၉။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကိုဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်း

ရေးဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၁။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၄။ OYC Asia Company Limited (အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့်သက်ဆိုင်ရာဝန်ကြီး ဌာနများမှချမှတ်ထားသောတည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသောလုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

6.7.16

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃ /မ-၁၃၃၅/၂၀၁၆(၉၀၄-၈)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၆ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၄-၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃-၃-၂၀၁၆ | ၁၃-၃-၂၀၁၆ | |
| | - သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန (ယခင် - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန) | ၈-၃-၂၀၁၆ | ၂၁-၃-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန | ၃-၃-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ (ပထမအကြိမ်) | ၃-၃-၂၀၁၆ | ၁၅-၃-၂၀၁၆ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ (ဒုတိယအကြိမ်) | ၁၇-၃-၂၀၁၅ | ၂၁-၃-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး သို့ တင်ပြခြင်း | ၉/၂၀၁၆ (၂၉-၂-၂၀၁၆) | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၉- ၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၁၅-၃-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ အစုံ(၇)စုံ ပေးပို့ခြင်း | ၁၈-၃-၂၀၁၆ | | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | **(၁၃၉)ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ်-၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၄၁.၁၇၉ သန်း (US$ ၀.၀၄၉ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပသို့တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| IRR | - ၃၂.၀၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၁.၆၈၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၅.၀၀၀ | - |
| ၄ | ဝင်ငွေခွန် | ၃၃.၆၁၀ | ၁၅၈.၉၁၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၃၆၆.၆၅၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း လေးဆယ့်ရှစ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄)ဦး |
| ၇ | CSR ( ၁ %) | - | ၉.၅၃၀ |
| ၈ | မြေငှားရမ်းခရငွေ | - | ၁၆၈.၀၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၀၃ ဦး<br>ပြည်ပ ၅ ဦး<br>ပြည်တွင်း လုပ်သား (၂၀၃) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုး တက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | ကျပ် ၁၂၀ သန်း | ကျပ် ၇၀၄.၂၅၅ သန်း |
| | Cost : Benefit | ၁ : ၆ | |

**အကြောင်းအရာ။** **အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် (OYC ASIA Co., Ltd.) မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိုစိစစ်နှင့်စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဥက္ကာ<br>(အဘ-ဦးညွန့်ဆွေ) |
| ၂ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း |
| ၃ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်-၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးအောင်မြင့် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - (၄၀ ပေ x ၁၁၀ ပေ) နှစ်ထပ် အဆောက်အဦ ၁ လုံး(စက်ရုံ) |
| ၄ | မြေငှားရမ်းကာလ | - ကနဦး ၁၀ နှစ် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ကျပ် ၂၄,၀၀၀,၀၀၀<br>(၁)နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃၂,၄၀၇.၂၅ နှုန်းဖြစ်ပါသည်။ |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၄၁.၁၇၉ သန်း (US$ ၀.၀၄၉ သန်း အပါအဝင်)** |
| | - ငွေပမာဏ | ကျပ် ၅၀.၀၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်တွင်း) | ကျပ် ၁၄.၀၂၂ သန်း |
| | - စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်ပ) | ကျပ် ၅၉.၉၅၂ သန်း (US$ ၀.၀၄၉ သန်းနှင့် ညီမျှသော) |
| | - အဆောက်အအုံ(ပြုပြင်မွမ်းမံစရိတ်) | ကျပ် ၁၀.၀၀၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုး (ပြည်တွင်း) | ကျပ် ၇.၂၀၅ သန်း |
| ၆ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၃၀ နှစ် |
| ၇ | ပြုပြင်မွမ်းမံမှုကာလ | - ၁ နှစ် |
| ၈ | ရောင်းချမည့်နည်းစနစ် | - ၁၀၀ % ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ |
| ၉ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | - |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် Pcs | CMP လက်ခနှုန်း (US $/Pcs) |
|---|---|---|
| All kinds of Bags (for CD, Suit cover, Shoe) | ၁၄၀,၀၀၀ | ၀.၉၅ |

| | | |
|---|---|---|
| | Travelling Bag | ၆၀,၀၀၀ ၃.၅၀ |
| | Carrying Bags | ၆၅,၀၀၀ ၂.၆၀ |
| | Backpack | ၉၀,၀၀၀ ၂.၆၀ |
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၈၉၅.၂၀ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၈၀၉.၂၁ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၈၅.၉၉ သန်း |
| ၁၁ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - **၂၀၈ ဦး** |
| | ပြည်တွင်း | - ၂၀၃ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး ၏ လစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၅ ဦး (ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၇၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး ၏ လစာ US$ ၂,၀၀၀ ) |
| ၁၂ | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၃၂.၀၁ % |
| | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၂၈.၆၆ သန်း |
| ၁၃ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၃,၀၀၀ ယူနစ် |
| ၁၄ | CSR | - လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၁% ကိုသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း စီမံချက်ရေးဆွဲတင်ပြထားပါသည်။ |
| | အခြား | - မြေပိုင်ဆိုင်မှုအထောက်အထား၊ မြေဂရန်၊ မြေပုံနှင့် အဆောက်အဦဓါတ်ပုံတို့ကို တင်ပြထားပါသည်။<br>- အိုဝိုင်စီအာရှ ကုမ္ပဏီလီမိတက်၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာစာရင်း၊ နိုင်ငံသား စိစစ်ရေးကဒ် မိတ္တူများကို တင်ပြထားပါသည်။<br>- အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် နှင့် ဂျပန်နိုင်ငံ Topack Corporation တို့အကြားချုပ်ဆို ထားသော ၁-၄-၂၀၁၆ မှ ၃၁-၃-၂၀၁၈ အထိ ၂ နှစ်သက်တမ်းရှိသော Order Agreement တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၅ | ငွေကြေးအထောက်အထား | - အဆိုပြုကုမ္ပဏီမှ ကုန်ကြမ်းပစ္စည်းများအား တရုတ်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပါကြောင်းနှင့် ရရှိလာသည့်ကုန်ချောပစ္စည်းများ၏ ၁၀၀% ဂျပန်နိုင်ငံသို့ တင်ပို့မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်မှ ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်ကို ၁၁-၃-၂၀၁၆ ရက်စွဲဖြင့် ပေးဆောင်ပြီးဖြစ်ကြောင်း တင်ပြထား ပါသည်။<br>ဦးဥက္ကာ၊ ဒေါ်မိုးမြင့်ဆွေတို့သည် AYA Bank တွင် ၁၆-၂-၂၀၁၆ ရက်စွဲဖြင့် US$ ၅၃,၂၇၅.၇၀ ရှိကြောင်းနှင့် AYA Bank တွင် ၁၇-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၅၃,၉၂၂,၀၀၀ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။ |

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/မ-၁၃၃၅/၂၀၁၆( ၇၈၂ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇွန်လ ၂၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် (OYC Asia Company Limited)မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ် လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်(OYC Asia Company Limited)သည် မြေကွက်အမှတ်-၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဥက္ကာ (အဘ-ဦးညွန့်ဆွေ) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးအောင်မြင့် နှင့် အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက် တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေအထောက်အထားနှင့် အဆောက်အဦဓါတ်ပုံ၊ လုပ်ငန်းတည်နေရာပြမြေပုံများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့အား ပူးတွဲ တင်ပြထားပါသည်။ အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် နှင့် ဂျပန်နိုင်ငံ Topack Corporation တို့အကြားချုပ်ဆို ထားသော ၁-၄-၂၀၁၆ မှ ၃၁-၃-၂၀၁၈ အထိ ၂ နှစ်သက်တမ်းရှိသော Order Agreement တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းကာလမှာ ကနဦး ၁၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၇၀၄.၅၇၅ စတုရန်းမီတာ (၀.၁၈၃ ဧက)ပေါ်တွင် ၄၀ ပေ x ၁၁၀ ပေ နှစ်ထပ် (စက်ရုံ) အဆောက်အဦ ၁ လုံးပါဝင်ပြီး နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ ကျပ် ၂၄,၀၀၀,၀၀၀ ဖြစ်ပါသည်။ (၁)နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃၂,၄၀၇.၂၅ နှုန်းဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၃၀ နှစ် ဖြစ်ပြီး ပြုပြင်မွမ်းမံမှု ကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၅။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၁၄၁.၁၇၉ သန်း (US$ ၀.၀၄၉ သန်း အပါအဝင်)ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၅၀.၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်တွင်း) | ၁၄.၀၂၂ |
| (ဂ) | စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်ပ) | ၅၉.၉၅၂ (US$ ၀.၀၄၉ သန်းနှင့်ညီမျှသော) |
| (ဃ) | အဆောက်အအုံ(ပြုပြင်မွမ်းမံစရိတ်) | ၁၀.၀၀၀ |
| (င) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုး (ပြည်တွင်း) | ၇.၂၀၅ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၁၄၁.၁၇၉** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၂၀၃) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး စုစုပေါင်း (၂၀၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ မှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၇၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော အိတ်အမျိုးမျိုးကို ၁၀၀% ပြည်ပသို့ တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှုအရေအတွက်** Pcs | **CMP လက်ခနှုန်း** (US $/Pcs) |
|---|---|---|
| All kinds of Bags (for CD, Suit cover, Shoe) | ၁၄၀,၀၀၀ | ၀.၉၅ |
| Travelling Bag | ၆၀,၀၀၀ | ၃.၅၀ |
| Carrying Bags | ၆၅,၀၀၀ | ၂.၆၀ |
| Backpack | ၉၀,၀၀၀ | ၂.၆၀ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၈၉၅.၂၀ |
| (ခ) | အသုံးစရိတ် | ၈၀၉.၂၁ |
| (ဂ) | အသားတင်အမြတ် | ၈၅.၉၉ |

မှတ်ချက်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်။

၉။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၈.၆၆ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၂.၀၀ % ဖြစ်ပါသည်။

၁၀။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန(ယခင်- ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန)၊ စက်မှုဝန်ကြီးဌာနနှင့် CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီများသို့ သဘောထား မှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၁၁/၂၀၁၆ ဆုံးဖြတ်ချက်အပိုဒ် ၂ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့် ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန(ယခင်- ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန)** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက် ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြု ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၁% ကို အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များ အားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၂) ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/အခိုးအငွေ့ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်

စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာ ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ သဘောထား မှတ်ချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိပါကြောင်းနှင့် အဆိုပြု လုပ်ငန်းအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) CMP **လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ** လူဦးရေထပ်မံခန့်ထား လုပ်ကိုင်မှသာ အဆိုပြုချက်အတိုင်း ထုတ်လုပ်နိုင်သည်ကိုတွေ့ရှိရ၍ ပြင်ဆင်တင်ပြသင့်ပါကြောင်း၊ အဆိုပြုလုပ်ငန်းအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှစိစစ်လက်ခံပြီးဖြစ်ပါသည်။** **(နောက်ဆက်တွဲ-ဃ)**

၁၁။ အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်မှ ငွေ ရေးကြေးရေး အထောက်အထားအဖြစ် ဦးဥက္ကာ၊ ဒေါ်မိုးမြင့်ဆွေတို့သည် AYA Bank တွင် ၁၆-၂-၂၀၁၆ ရက်စွဲဖြင့် US$ ၅၃,၂၇၅.၇၀ ရှိကြောင်း နှင့် AYA Bank တွင် ၁၇-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၅၃,၉၂၂,၀၀၀ ရှိကြောင်း အထောက်အထား များတင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြား မှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ် ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ကို ရေးဆွဲ တင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်း သက်သာချောင်ချိရေးအစီအစဉ် နှင့် တစ်နှစ်လျှင် လစာဝင်ငွေ ကျပ်သိန်း (၄၈) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်



၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်(OYC Asia Company Limited) မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန်အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၁% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပသော ၉/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ အိုဝိုင်စီ အာရှ ကုမ္ပဏီလီမိတက်(OYC Asia Company Limited)သည် မြေကွက်အမှတ်-၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၈၃ ဧက (၇၄၀.၅၇၅ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ် ...
ရက်စွဲ ...
ရန်ကုန်တိုင်းဒေသကြီး

M 496
15/3

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၃၃၅/၂၀၁၆(၁၄၈)

၁။ အိုဝိုင်စီ အာရှကုမ္ပဏီလီမိတက်သည် မြေကွက်အမှတ်-၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀. ၁၈၃ ဧက (၇၄၀. ၅၇၅ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၂၉၇၃ ၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀. ၁၈၃ ဧက (၇၄၀. ၅၇၅ စတုရန်းမီတာ)အား တစ်နှစ်လျှင် ကျပ်သိန်း(၁၄၀)နှုန်း၊ (1sqft=5907 kyat, 1sqm=18904 Kyat)နှုန်းဖြင့် ကနဦး(၁၀)နှစ်နှင့် နှစ်တိုး(၁၀)နှစ်(၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/11.,(15)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၂)အရ အိုဝိုင်စီ အာရှကုမ္ပဏီ လီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အိုဝိုင်စီ အာရှကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/11.,(16)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၀၀ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **OYC ASIA COMPANY LIMITED မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၃၅/ ၂၀၁၆(၃၆၈)

၁။ OYC ASIA COMPANY LIMITED သည် မြေကွက်အမှတ်- ၂၉၇၃၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၈၃ဧက(၇၄၀.၅၇၅စတုရန်းမီတာ)ပေါ်ရှိမြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၁၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၁၂)လဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၁%)ကို လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) လုပ်ငန်းတွင်ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ OYC ASIA COMPANY LIMITED မှ အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် Nylon, Polyester နှင့် Fibre စသည့် ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် မြေဆီလွှာညစ်ညမ်းခြင်း၊ လုပ်ငန်းအဆင့်တိုင်းတွင်ထွက်ရှိလာမည့် ဖြတ်စညပ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းအဆင့်တိုင်းတွင်စက်များကိုအသုံးပြု၍ ဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ OYC ASIA COMPANY LIMITED မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက်အသားတင်အမြတ်ငွေ၏(၁%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အခိုးအငွေ့စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environ - mental Manangement Plan – EMP )** ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ

7.497
15/3

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊၂၁-စမ(၂)၂၀၁၅-၂၀၁၆(၄၅၀၈)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် ၁၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၃.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၃၃၅/ ၂၀၁၆ (၃၄၉)

၁။ အိုဝိုင်စီအာရုကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃/တိုးချဲ့၊ မြေကွက်အမှတ် (၂၉၇၃)တွင် CMPစနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှု ရှိပါသည်။

၃။ သို့ပါ၍ အိုဝိုင်စီအာရှကုမ္ပဏီလီမိတက်မှ CMPစနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၄.၃.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄ -အလ/ခွဲ(၂) ၂၀၁၆(၂၈၈၃)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၅ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **OYC Asia Company Limited မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၃-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ- ၁၃၃၅/၂၀၁၆(၃၅၀)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၆၃(တိုးချဲ့)၊ မြေကွက်အမှတ် (၂၉၇၃) ရှိ မြေဧရိယာ ၇၄၀.၅၇၅ စတုရန်းမီတာပေါ်ရှိ မြေနှင့် အဆောက်အဦ အား ငှားရမ်း၍ OYC Asia Company Limited သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ရုံးလုပ်ငန်းအဖွဲ့ခေါင်းဆောင်၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်းနှင့် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၉-၃-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်၍ စစ်ဆေးခဲ့ပါသည်။

၂။ OYC Asia Company Limited ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ထုတ်လုပ်မည့်ပစ္စည်း** | **တစ်ခုလိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. All Kinds of Bag | 1.2 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Travelling Bag | 2.0 yds/pc | ။ |
| 3. Carrying Bag | 1.8 yds/pc | ။ |
| 4. Back Pack | 2.0 yds/pc | ။ |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး၏ ကုန်ကြမ်းသုံးစွဲမှုနှုန်းထား၊ တစ်ခုလိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ်ချက်စံနှုန်းထားများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

| ထုတ်လုပ်မည့်ပစ္စည်း | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ခုလိုအပ် ချက်နှုန်းထား | လိုအပ်မည့်ကုန်ကြမ်း အရေအတွက် |
|---|---|---|---|
| 1. All Kinds of Bag | 100000 pcs | 1.2 yds/pc | 120000 yds |
| 2. Travelling Bag | 50000 pcs | 2.0 yds/pc | 100000 yds |
| 3. Carrying Bag | 60000 pcs | 1.8 yds/pc | 108000 yds |
| 4. Back Pack | 80000 pcs | 2.0 yds/pc | 160000 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 488000 yds ကုန်ကျမည်ဖြစ်ပြီး အဆိုပြုချက်တွင် 488000 yds ဖော်ပြထားသဖြင့် CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(ခ) CMP လက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ

အဆိုပြုချက်ပါ CMP လက်ခနှုန်းထားများသည် ချုပ်ထည် အမျိုးအစား၊ ဒီဇိုင်း အမျိုးအစားနှင့် ချုပ်လုပ်သည့် ချုပ်ရိုးချုပ်သား ကောင်းမွန်မှုပေါ်တွင် မူတည်၍ ဈေးနှုန်းအနိမ့်အမြင့်ရှိသဖြင့် အဆိုပြုချက် CMP လက်ခနှုန်းထားများသည် All Kinds of Bag တွင် နည်းနေကြောင်း တွေ့ရှိရ၍ ပြင်ဆင်တင်ပြသင့်ပါသည်-

| ထုတ်လုပ်မည့်ပစ္စည်း | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်းလက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. All Kinds of Bag | 3.6 US$/dz | 10-12 US$/dz |
| 2. Travelling Bag | 36 US$/dz | 26-28 US$/dz |
| 3. Carrying Bag | 26.4 US$/dz | 20-22 US$/dz |
| 4. Back Pack | 26.4 US$/dz | 24-26 US$/dz |

(ဂ) နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ

အဆိုပြုချက်ပါ ထုတ်လုပ်မည့်ပစ္စည်းများမှာ အိတ်မျိုးစုံဖြစ်ပြီး အဓိကစက်အနေဖြင့် Single Sewing Machines ၁၉၅ လုံး၊ Double Needle Machines ၅ လုံး၊ Over Lock Machines ၃ လုံး၊ ဝန်ထမ်းအနေဖြင့် Skilled Workers ၁၅၀ ဦး ၊ Unskilled Workers ၂၀ ဦး ၊ Quality Control Workers ၅ ဦး တို့ဖြင့် ချုပ်လုပ်မည်ဆိုပါက Cutting ၊ Finishing နှင့် Helper အတွက် လူခွဲထုတ်ပါက စက်အားလုံး မလည်ပတ်နိုင်ပါ။ လူဦးရေအခြေခံတွက်ချက်မည်ဆိုပါက -

| ထုတ်လုပ်မည့် ပစ္စည်း | ကုန်ထုတ် စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ် မှု (၃၁၀) ရက် |
|---|---|---|---|
| 1. All Kinds of Bag | ၁ လိုင်း | 250 pcs/10 hr | 77500 pcs |
| 2. Travelling Bag | ၁ လိုင်း | 200 pcs/10 hr | 62000 pcs |
| 3. Carrying Bag | ၁ လိုင်း | 200 pcs/10 hr | 62000 pcs |
| 4. Back Pack | ၁ လိုင်း | 200 pcs/10 hr | 62000 pcs |

အဆိုပြုချက်ပါ အရေအတွက်နှင့် အမှန်ထုတ်လုပ်မှု အရေအတွက် နှိုင်းယှဉ်ပါက ထုတ်လုပ်နိုင်ခြင်း မရှိကြောင်း တွေ့ရှိရပြီး နောင်နှစ်များတွင် ထုတ်လုပ်မှုမတိုးသော်လည်း လူဦးရေထပ်မံခန့်ထားကြောင်း တွေ့ရှိရပါသည်။ ပထမနှစ်၌ လူဦးရေ အနည်းငယ် ထပ်မံခန့်ထားသင့်ပြီးထုတ်လုပ်မှုအတိုင်းသာ ကုန်ကြမ်းတင်သွင်းသင့်ပါသည် -

| ထုတ်လုပ်မည့်ပစ္စည်း | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| 1. All Kinds of Bag | 100000 pcs | 77500 -78000 |
| 2. Travelling Bag | 50000 pcs | 62000 -62500 |
| 3. Carrying Bag | 60000 pcs | 62000 -62500 |
| 4. Back Pack | 80000 pcs | 62000 -62500 |

၃။ သို့ဖြစ်၍ OYC Asia Company Limited အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
OYC Asia Company Limited
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ | စာအမှတ်၊ ရက- ၃/မ-၁၃၃၅/၂၀၁၆( ၄၂၁ )

ဖက်(စ်) -၀၁-၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၇ ရက်

**အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်**

အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းအတွက် ပေးပို့ခဲ့သော လုပ်ငန်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည် ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ် မှတ်ချက်ပြု ပေးနိုင်ပါရန်မေတ္တာရပ်ခံအပ်ပါသည်။

၁၇.၃.၂၀၁၆

အတွင်းရေးမှူး (ကိုယ်စား)

(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMP လုပ်ငန်းများ ကြီးကြပ် ရေးကော်မတီ | [illegible] | [illegible] ၁၇ | လက်ခံနိုင်ပါသည်/ ~~ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ~~ | လှသီတာ စက်ရုံမှူး အထည်ချုပ်စက်ရုံအမှတ်(၈၅) |

မိတ္တူကို

ရုံးလက်ခံ

checking

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်

# (OYC ASIA COMPANY LIMITED)

(စီအမ်ပီစနစ်ဖြင့်အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း)

× × × × × × × × × × × × × × × ×

# OYC ASIA COMPANY LIMITED
# အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက်

No.161, Maharswe 2nd Street,42 Ward ,North Dagon Township,Yangon,Myanmar
Phone : +95-95188127 , +95-95187706 , +81-8039914845
Email : okkar.oyc@gmail.com, info.oyca.fukuoka@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ( ၂၃ ) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်ပေးပို့ခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အိုဝိုင်စီ အာရှ ကုမ္ပဏီ လီမိတက် (OYC Asia Company Limited) သည် မြေကွက်အမှတ် – ၂၉၇၃ ၊ ရောဝတီလမ်း ၊ (၆၃) တိုးချဲ့ရပ်ကွက်၊ စက်မှုဇုန် ၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ (၀.၁၈၃) ကေအကျယ်အဝန်းရှိသော မြေနှင့်အဆောက်အဦးပေါ်တွင် စီအမ်ပီစနစ်ဖြင့် အိတ်အမျိုးမျိုး ချုပ်လုပ်သည့်စက်ရုံ တည်ထောင်နိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ ( ၂၂ ) စုံကို လိုအပ်သလို ဆောင်ရွက်ပေး နိုင်ရန်အတွက် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**OKKAR**
**MANAGING DIRECTOR**
**OYC ASIA COMPANY LIMITED.**

